

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/ခ-၀၁၅/၂၀၁၈ (၂၈၃.က)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဩဂုတ် လ 27 ရက်

အကြောင်းအရာ။ **Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့(န်စ်) အင်(န်)တက်(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗားစတီ ကုမ္ပဏီလီမိတက်) ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Science and Tech International Myanmar University Co., Ltd. ၏ ၂၅-၅-၂၀၁၈ ရက်စွဲပါစာ

၁။ Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့(န်စ်) အင်(န်)တက်(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗားစတီ ကုမ္ပဏီလီမိတက်) မှ အမှတ် ၆၀၅၊ မဟာသုခိတာလမ်းမကြီး၊ မြေကွက်အမှတ် ၃၄၄/B၊ မြေတိုင်းရပ်ကွက်အမှတ် ၆ ဒီ ၁၄၊ ၁၅၊ ၁၆၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနှင့် ကွင်းအမှတ်-မ(၂၃)၊ မြို့သစ် (၁)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအား ၂၀၁၈ ခုနှစ် ဩဂုတ် လ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့(န်စ်)အင်(န်)တက်(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗားစတီ ကုမ္ပဏီလီမိတက်)အား ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၁၀၆/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်) တက်(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗားစတီ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤ ခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တက်(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗားစတီ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၈) ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တက်(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗားစတီ ကုမ္ပဏီလီမိတက်)သည်